ကုမ္ပဏီအမည် - Golden Lace Daewoo Company Limited

လုပ်ငန်း - B.O.T စနစ်ဖြင့် ပေါင်းဆန်၊ အဆင့်မြင့်ဆန်ဖြူနှင့် ဆန်နှင့်သက်ဆိုင်သောထုတ်ကုန်များ ကြိတ်ခွဲထုတ်လုပ်ရောင်းချခြင်းလုပ်ငန်း

| စဉ် | အကြောင်းအရာ | ဆောင်ရွက်သည့် နေ့စွဲ | ပြန်ကြားချက် ရရှိသည့်နေ့စွဲ | မှတ်ချက် |
|---|---|---|---|---|
| ၁ | အဆိုပြုလွှာ လက်ခံရရှိခြင်း | ၁၈-၁၀-၂၀၁၆ | | |
| ၂ | သဘောထားမှတ်ချက် တောင်းခံခြင်း | | | |
| | (က) စက်မှုဝန်ကြီးဌာန | ၂၁-၁၁-၂၀၁၆ | ၂-၁၂-၂၀၁၆ | |
| | (ခ) စီးပွားရေးနှင့်ကူးသန်းရောင်းဝယ်ရေးဝန်ကြီးဌာန | ၂၁-၁၁-၂၀၁၆ | ၉-၁၂-၂၀၁၆ | |
| | (ဂ) ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့်သစ်တောရေးရာဝန်ကြီးဌာန | ၁၇-၁၁-၂၀၁၆ | ၂၈-၁၁-၂၀၁၆ | |
| | (ဃ) ရန်ကုန်တိုင်းဒေသကြီး အစိုးရအဖွဲ့ | ၂၁-၁၁-၂၀၁၆ | ၇-၁၂-၂၀၁၆ | |
| | (င) မြန်မာနိုင်ငံတော်ဗဟိုဘဏ် | ၂၅-၁၁-၂၀၁၆ | ၂၀-၁၂-၂၀၁၆ | |
| ၃ | အဆိုပြုချက်စိစစ်ရေးအဖွဲ့အစည်းအဝေး (၃၉/၂၀၁၆) သို့ တင်ပြခြင်း | ၂၄-၁၀-၂၀၁၆ | | |
| ၄ | အဆိုပြုလွှာလက်ခံကြောင်းစာ ပေးပို့ခြင်း | ၂၅-၁၀-၂၀၁၆ | | |
| ၅ | မြေအသုံးပြုခွင့်တင်ပြခြင်း ကော်မရှင်၏ ၂၂/၂၀၁၆ ကြိမ်မြောက် အစည်းအဝေး နှင့် ပြည်ထောင်စုအစိုးရအဖွဲ့ အစည်းအဝေးသို့ ဆက်လက်တင်ပြထားပါသည်။ | | | |
| ၆ | MIC သို့ တင်ပြရန် ကုမ္ပဏီမှ အဆိုပြုလွှာ (၈)စုံ လက်ခံရရှိ | | | |
| ၇ | **စုစုပေါင်း ကြာမြင့်ရက်** | ၇၀ ရက် | | |

ကုမ္ပဏီအမည် - Golden Lace Daewoo Company Limited

အဖွဲ့အစည်းပုံသဏ္ဍာန် - ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု

လုပ်ငန်းအမျိုးအစား - B.O.T စနစ်ဖြင့် ပေါင်းဆန်၊ အဆင့်မြင့်ဆန်ဖြူနှင့် ဆန်နှင့်သက်ဆိုင်သောထုတ်ကုန်များ ကြိတ်ခွဲထုတ်လုပ်ရောင်း ချခြင်းလုပ်ငန်း

တည်နေရာ - ဦးပိုင်အမှတ်(CN/၁၀)၊ ကွင်းအမှတ် ၁၂၄-A၊ လှေလမ်းကွင်း၊ ကုလားတန်းကျေးရွာအုပ်စု၊ တွံတေးမြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီး ရှိ မြေ (၁၃.၈)ဧက

စုစုပေါင်းရင်းနှီးမြှုပ်နှံမှု - အမေရိကန်ဒေါ်လာ ၁၆.၆၁၃ သန်း

လုပ်ငန်းသက်တမ်း - ကနဦး (၅၀)နှစ် နှင့် သက်တမ်းတိုး ၁၀ နှစ် ၂ ကြိမ်

အရင်းကြေကာလ - ၅ နှစ် ၅လ

IRR - ၂၂.၇၀ %

အထက်ပါလုပ်ငန်းဆောင်ရွက်ခြင်းဖြင့် နိုင်ငံတော်၏ Cost & Benefit ကို အောက်ပါ ဇယားဖြင့် ပြုစုတင်ပြအပ်ပါသည်-

| စဉ် | အကြောင်းအရာ | Cost (ကျပ်သန်း) | Benefit (ကျပ်သန်း) |
|---|---|---|---|
| ၁ | နိုင်ငံ့ဝန်ထမ်းလစာ(တစ်နှစ်) | ၂.၁၆ | |
| ၂ | ကုမ္ပဏီမှတ်ပုံတင်ကြေး | | ၁.၁၆၅ |
| ၃ | သွင်းကုန်အခွန်ကင်းလွတ်ခွင့် | ၆၆၇.၀၉၅ | - |
| ၄ | ဝင်ငွေခွန် | ၂၇၄၈.၉၀၀ | ၇၁၈၄.၁ |
| ၅ | ကုန်သွယ်လုပ်ငန်းခွန် | - | - |
| ၆ | လျှပ်စစ်မီးသုံးစွဲခ | | ၄၈၆.၂၀၀ |
| ၇ | လုပ်ခလစာအပေါ်ဝင်ငွေခွန် | | ဝင်ငွေခွန်ဥပဒေအတိုင်း ထမ်းဆောင်ပါမည်။ |
| ၈ | CSR (၃%) | | ၃၈၃.၉ |
| ၉ | အလုပ်အကိုင်အခွင့်အလမ်း | | ပြည်တွင်းဝန်ထမ်း ၃၂ဦး အလုပ်အကိုင် ရရှိမည် ဖြစ်ပါသည်။ |
| ၁၀ | စုစုပေါင်း | ၃၄၁၈.၁၅၅ | ၈၀၅၅.၃၆၅ |
| ၁၁ | Cost : Benefit | ၁ : ၂ | |

အကြောင်းအရာ။ ဖက်စပ်ရင်းနှီးမြှုပ်နှံမှုဖြင့် Golden Lace Daewoo Company Limited မှ ပို့ဆောင်ရေးနှင့် ဆက်သွယ်ရေးဝန်ကြီးဌာန၊ ရေအရင်းအမြစ်နှင့် မြစ်ချောင်းများဖွံ့ဖြိုးတိုးတက်ရေးဦးစီးဌာနပိုင်မြေ အားငှား ရမ်း၍ B.O.T စနစ်ဖြင့် ပေါင်းဆန်၊ အဆင့်မြင့်ဆန်ဖြူနှင့် ဆန်နှင့်သက်ဆိုင်သော ထုတ်ကုန်များ ကြိတ်ခွဲ ထုတ်လုပ်ရောင်းချခြင်း လုပ်ငန်းအား ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြု တင်ပြလာခြင်းကိစ္စ

| | | |
|---|---|---|
| ၁။ | ကုမ္ပဏီအမည်/ | - Golden Lace Daewoo Company Limited |
| | ကမကထပြုသူ | - ဦးသောင်းဝင်း |
| | အဖွဲ့အစည်းပုံသဏ္ဍာန် | - ဖက်စပ်ရင်းနှီးမြှုပ်နှံမှု<br>Golden Lace Company Limited<br>မြန်မာနိုင်ငံ ၄၀%<br>Posco Daewoo Corporation<br>ကိုရီးယားနိုင်ငံ ၆၀% |
| | လုပ်ငန်းအမျိုးအစား | - ပေါင်းဆန်၊ အဆင့်မြင့်ဆန်ဖြူနှင့် ဆန်နှင့်သက်ဆိုင်သော ထုတ်ကုန်များ ကြိတ်ခွဲ ထုတ်လုပ်ရောင်းချခြင်းလုပ်ငန်း |
| ၂။ | တည်နေရာ | - ရန်ကုန်တိုင်းဒေသကြီး၊ တွံတေးမြို့နယ်၊ ကုလားတန်းကျေးရွာအုပ်စု၊ ကွင်းအမှတ် ၁၂၄-A၊ လေ့လမ်းကွင်း၊ ဦးပိုင်အမှတ် (CN/၁၀) ရှိ မြေ (၁၃.၈)ဧက |
| ၃။ | မြေပိုင်ရှင် | - ပို့ဆောင်ရေးနှင့် ဆက်သွယ်ရေးဝန်ကြီးဌာန၊ ရေအရင်းအမြစ်နှင့် မြစ်ချောင်းများ ဖွံ့ဖြိုးတိုးတက်ရေး ဦးစီးဌာနပိုင်မြေ |
| | မြေအကျယ်အဝန်း | - ဧရိယာ ၁၃.၈ ဧက၊ (၅၅၈၄၆.၆၇ စတုရန်းမီတာ) |
| ၄။ | နှစ်စဉ်မြေငှားရမ်းခ | - ကျပ် ၂၀,၉၄၂,၅၀၀<br>- (တစ်နှစ်တစ်စတုရန်းမီတာလျှင် ၃၇၅ကျပ်) |
| | မြေငှားရမ်းကာလ | - ၅၀ နှစ် |
| ၅။ | လုပ်ငန်းသက်တမ်း | - ၅၀ နှစ် နှင့် သက်တမ်းတိုး ၁၀နှစ် ၂ ကြိမ် |
| | တည်ဆောက်ရေးကာလ | - ၂ နှစ် |

| | | |
|---|---|---|
| ၆။ | စုစုပေါင်းမတည်ငွေရင်းပမာဏ | - US$ ၁၆.၆၁၃ သန်း |

| | နိုင်ငံသား | နိုင်ငံခြား | ဈေးငွေ | US$ သန်း စုစုပေါင်း |
|---|---|---|---|---|
| ငွေသား | ၁.၂၉၈ | ၂.၂၃၈ | | ၃.၅၃၆ |
| စက်ပစ္စည်း၊ကိရိယာများ | ၀.၉၄၇ | ၁.၁၃၀ | | ၂.၀၇၇ |
| ဆောက်လုပ်ရေးလုပ်ငန်းသုံး ပစ္စည်းများ | | | ၂.၀၄၅ | ၂.၀၄၅ |
| အဆောက်အဦးနှင့်စက် ပစ္စည်းကိရိယာများ | | | ၄.၈၃၃ | ၄.၈၃၃ |
| အထွေထွေစက်ပစ္စည်း ကိရိယာများ | | | ၁.၂၀၇ | ၁.၂၀၇ |
| လျှော်စစ်ပစ္စည်းများ | | | ၂.၉၁၅ | ၂.၉၁၅ |
| စုစုပေါင်း | ၂.၂၄၅ | ၃.၃၆၈ | ၁၁.၀၀ | ၁၆.၆၁၃ |

၇။ ဝန်ထမ်းအင်အား - ၃၃ ဦး

ပြည်တွင်း - ၃၂ဦး(ပြည်တွင်းဝန်ထမ်းတစ်ဦး၏ အနိမ့်ဆုံးလစာ US$ ၁၃၂ အမြင့်ဆုံးလစာ US$ ၆၂၅၀)

ပြည်ပ - ၁ ဦး(ပြည်ပဝန်ထမ်းတစ်ဦး၏အမြင့်ဆုံးလစာUS$ ၆၂၅၀)

၈။ ရောင်းချမည့်စနစ် - ပြည်တွင်း၂၀%

- ပြည်ပ ၈၀%

နှစ်စဉ်ထုတ်လုပ်မှု ပုံမှန်နှစ်

- ပြည်တွင်းရောင်း

| စဉ် | ပစ္စည်း အမျိုးအစား | အရေအတွက် (MT) | ရောင်းချမည့် ဈေးနှုန် (Kyat /MT) |
|---|---|---|---|
| (က) | Extra Broken | ၆,၃၅၈ | ၃၆၇,၄၀၀ |
| (ခ) | Broken | ၅,၇၇၀ | ၂၇၆,၁၀၀ |
| (ဂ) | Bran | ၃,၄၆၀ | ၂၅၅,၂၀၀ |

- ပြည်ပရောင်း

| စဉ် | ပစ္စည်း အမျိုးအစား | အရေအတွက် (MT) | ရောင်းချမည့် ဈေးနှုန်း (US$/ MT) |
|---|---|---|---|
| (က) | Parboiled Rice (Grade 1) | ၆၂,၂၆၀ | ၄၄၉ |
| (ခ) | Parboiled Rice (Grate 2) | ၅,၁၄၀ | ၂၃၉ |

| | | |
|---|---|---|
| ၉။ | ကုမ္ပဏီ၏ဝင်ငွေ (ဆဋ္ဌမမြောက်နှစ် ) | - US$ ၃၃.၅၅၈ သန်း |
| | ကုမ္ပဏီ၏အသုံးစရိတ် | - US$ ၂၉.၂၇၆ သန်း |
| | ကုမ္ပဏီ၏အသားတင်အမြတ် (ဆဋ္ဌမမြောက်နှစ် ) | - US$ ၄.၂၈၂ သန်း |
| | CSR ၃ % | - US$ ၀.၁၃ သန်း |
| ၁၀။ | နိုင်ငံတော်မှရရှိမည့် အကျိုးအမြတ်ဝင်ငွေခွန် (ဆဋ္ဌမနှစ်မြောက်) | - US$ ၁.၄၃ သန်း |
| | အရင်းကြေကာလ | - ၅ နှစ် ၅ လ |
| | အရင်းအနှီးအပေါ်အကျိုးအမြတ်ပြန်ပေါ်နှုန်း (IRR) | - ၂၂.၇ % |
| ၁၁။ | လျှပ်စစ်ဓါတ်အားသုံးစွဲမှု (နှစ်စဉ်) | - ၇,၅၀၀,၀၀၀ Kwh |
| ၁၂။ | အခြားတင်ပြချက် | - Golden Lace Company Limitedနှင့် Posco Daewoo Corporation တို့ ချုပ်ဆိုထားသော JV Agreement အား တင်ပြထားပါသည်။<br>- Golden Lace Daewoo Company Limited ၏ ဒါရိုက်တာစာရင်း၊ MOA နှင့် AOAတို့ကိုလည်း တင်ပြထားပါသည်။<br>- Golden Lace Daewoo Company Limited မှ မီးဘေးကာကွယ်ရေး အစီအစဉ်၊ ပတ်ဝန်းကျင် ထိန်းသိမ်းရေးနှင့် သန့်ရှင်းသာယာရေး စီမံချက်၊ ဝန်ထမ်းသက်သာ ချောင်ချိရေးစီမံချက်၊ လစာခွန် ပေးဆောင်မည်ဖြစ်ကြောင်း ဝန်ခံကတိပြုခြင်းတို့အား တင်ပြထားပါသည်။<br>- Golden Lace Daewoo Company Limited နှင့် မြေပိုင်ရှင် ရေအရင်းအမြစ်နှင့် မြစ်ချောင်းများဖွံ့ဖြိုး တိုးတက်ရေးဦးစီးဌာနတို့ ချုပ်ဆိုထားသော မြေငှားစာချုပ် (မူကြမ်း) အား တင်ပြထားပါသည်။ |

| | | |
|---|---|---|
| ၁၃။ | စိစစ်တင်ပြချက် | - ငွေရေးကြေးရေး အထောက်အထားအဖြစ် Posco Daewoo Corporation သည် ကိုရီးယားနိုင်ငံရှိ Woori Bank ၌ ၁၂-၉-၂၀၁၆ရက်နေ့တွင် လက်ကျန်ငွေအမေရိကန်ဒေါ်လာ ၆၀၀သန်းရှိကြောင်းနှင့် Golden Lace Co.,Ltdအမည်ဖြင့် နိုင်ငံခြားကုန်သွယ်မှုဘဏ်၌ ၁၀-၈-၂၀၁၆ရက်စွဲဖြင့် အမေရိကန်ဒေါ်လာ ၉၀, ၈၈၅.၄၉ရှိကြောင်း တင်ပြထားပါသည်။<br>- Daewoo International Corporation၏ ၂၀၁၄-၂၀၁၅ ခုနှစ် Audit Reportနှင့် ကနဦးပတ်ဝန်းကျင်ဆန်းစစ်ချက် (IEE Report)အား တင်ပြထားပါသည်။<br>- ချေးငွေ ၁၁ သန်းပါဝင်မည်ဖြစ်ပါသည်။<br>- Sumitomo Mitsui Banking Corporation မှချေးယူမည့် Loan Agreement (မူကြမ်း)အားတင်ပြထားပါသည်။<br>- မြေစာရင်းပုံစံ (၁၀၅) အားတင်ပြထားပါသည်။ |

# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
# မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

စာအမှတ်၊မရက-၂/ န-၁၅၉ /၂၀၁၆ ( ၉၅၇ )
ရက်စွဲ၊ ၂၀၁၆ ခုနှစ် ဒီဇင်ဘာလ ၂၇ ရက်

**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့
တင်ပြသည့်အမှာစာ**

အကြောင်းအရာ။ **ဖက်စပ်ရင်းနှီးမြှုပ်နှံမှုဖြင့် Golden Lace Daewoo Company Limited မှ ပို့ဆောင်ရေးနှင့် ဆက်သွယ်ရေးဝန်ကြီးဌာန၊ ရေအရင်းအမြစ်နှင့် မြစ်ချောင်းများဖွံ့ဖြိုးတိုးတက်ရေးဦးစီးဌာနပိုင်မြေ အားငှား ရမ်း၍ B.O.T စနစ်ဖြင့် ပေါင်းဆန်၊ အဆင့်မြင့်ဆန်ဖြူနှင့် ဆန်နှင့်သက်ဆိုင်သော ထုတ်ကုန်များ ကြိတ်ခွဲ ထုတ်လုပ်ရောင်းချခြင်း လုပ်ငန်းအား ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြု တင်ပြလာခြင်းကိစ္စ**

၁။ ကိုရီးယားနိုင်ငံ Posco Daewoo Corporation မှ (၆၀%) နှင့် မြန်မာနိုင်ငံမှ Golden Lace Company Limited မှ (၄၀%) အစုရှယ်ယာများ ထည့်ဝင်ကာ နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု ဥပဒေအရ ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် မြန်မာနိုင်ငံတွင် Golden Lace Daewoo Company Limited တည်ထောင်ပြီး ရန်ကုန်တိုင်းဒေသကြီး၊ တွံတေးမြို့နယ်၊ ကုလားတန်းကျေးရွာအုပ်စု၊ ကွင်းအမှတ် ၁၂၄-A၊ လှေလမ်းကွင်း၊ ဦးပိုင်အမှတ်(CN/၁၀) အတွင်းရှိမြေ (၁၃.၈)ဧကကို ငှားရမ်း၍ ပေါင်းဆန် နှင့် အဆင့်မြင့်ဆန်ဖြူ ထုတ်လုပ်သည့်လုပ်ငန်းအား နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု ဥပဒေအရ ဆောင်ရွက်ခွင့် ပြုပါရန် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင်သို့ အဆိုပြု တင်ပြလာပါသည်။

၂။ အဆိုပြုချက်နှင့်အတူ မြေပိုင်ရှင် Golden Lace Company Limited နှင့် Golden Lace Daewoo Company Limitedတို့ ချုပ်ဆိုမည့် မြေငှားရမ်းခြင်း သဘောတူစာချုပ်(မူကြမ်း)၊ Golden Lace Company Limited နှင့် Posco Daewoo Corporation တို့ချုပ်ဆိုမည့် ဖက်စပ်သဘောတူ စာချုပ်(မူကြမ်း)၊ မြေဆိုင်ရာ အထောက်အထားများနှင့် လုပ်ငန်းတည်နေရာပြ မြေပုံများ၊ အဆောက်အဦ Layout Plan၊ ၊ Golden Lace Daewoo Company Limited ၏ သင်းဖွဲ့မှတ်တမ်းနှင့် သင်းဖွဲ့စည်းမျဉ်း(မူကြမ်း) တို့ကိုတင်ပြထားပါသည်။

၃။ အဆိုပြုချက်နှင့်အတူ ပြည်ထောင်စုရှေ့နေချုပ်ရုံး၏ သဘောထားမှတ်ချက်နှင့်အညီပြင်ဆင် ထားပြီး မြေပိုင်ရှင် ပို့ဆောင်ရေးနှင့်ဆက်သွယ်ရေးဝန်ကြီးဌာန၊ ရေအရင်းအမြစ်နှင့် မြစ်ချောင်းများ ဖွံ့ဖြိုးတိုးတက်ရေးဦးစီးဌာနနှင့် Golden Lace Daewoo Company Limited တို့ကြား ချုပ်ဆိုမည့်

မြေငှားစာချုပ် (မူကြမ်း)ကိုတင်ပြထားပါသည်။ မြေငှားစာချုပ်ပါ အဓိကအချက်များမှာ အောက်ပါ အတိုင်း ဖြစ်ပါသည်-

(က) မြေငှားရမ်းခြင်းသက်တမ်းမှာ မြေငှားစာချုပ် ချုပ်ဆိုသည့်နေ့မှစ၍ (၂)နှစ်ပြည့် မြောက်သည့်နေ့မှ နှစ်(၅၀)ငှားရမ်းပြီး တစ်ကြိမ်လျှင် (၁၀)နှစ်ဖြင့် သက်တမ်းနှစ်ကြိမ် အထိ တိုးမြှင့်၍ စုစုပေါင်း နှစ်(၇၀)အထိ ငှားရမ်းမည်ဖြစ်ပါသည်။

(ခ) ငှားရမ်းကာလ ကနဦး(၅)နှစ်တွင် မြေဧရိယာတစ်စရန်းမီတာလျှင် ကျပ်(၃၇၅)နှုန်းဖြင့် တွက်ချက်ပြီး စုစုပေါင်းစတုရန်းမီတာ ၅၅,၈၄၆.၆၇အတွက် နှစ်စဉ်မြေငှားရမ်းခ (၁) နှစ်လျှင် ကျပ် ၂၀,၉၄၂,၅၀၀နှုန်းပေးချေရပါမည်။

၄။ လုပ်ငန်းစီမံကိန်းကာလမှာ ကနဦး ၅၀နှစ်နှင့် သက်တမ်းတိုး ၁၀ နှစ် ၂ ကြိမ်ဖြစ်ပါသည်။ တည်ဆောက်ရေးကာလ မှာ ၂နှစ် ဖြစ်ပါသည်။

၅။ လုပ်ငန်း၏ စုစုပေါင်းမတည်ငွေရင်းပမာဏမှာ အမေရိကန်ဒေါ်လာ ၁၆.၆၁၃ သန်းဖြစ်ပြီး အောက်ပါအတိုင်း ထည့်ဝင်ထားပါသည်-

| | | | အမေရိကန်ဒေါ်လာ သန်း | |
|---|---|---|---|---|
| | **နိုင်ငံသား** | **နိုင်ငံခြား** | **ချေးငွေ** | **စုစုပေါင်း** |
| ငွေသား | ၁.၂၉၈ | ၂.၂၃၈ | | ၃.၅၃၆ |
| စက်ပစ္စည်း၊ကိရိယာများ | ၀.၉၅၇ | ၁.၁၂၀ | | ၂.၀၇၇ |
| ဆောက်လုပ်ရေးလုပ်ငန်း သုံးပစ္စည်းများ | | | ၂.၀၄၅ | ၂.၀၄၅ |
| အဆောက်အဦးနှင့်စက် ပစ္စည်းကိရိယာများ | | | ၄.၈၃၃ | ၄.၈၃၃ |
| အထွေထွေစက်ပစ္စည်း ကိရိယာများ | | | ၁.၂၀၇ | ၁.၂၀၇ |
| လျှစ်စစ်ပစ္စည်းများ | | | ၂.၉၁၅ | ၂.၉၁၅ |
| **စုစုပေါင်း** | ၂.၂၅၅ | ၃.၃၅၈ | ၁၁.၀၀ | ၁၆.၆၁၃ |

၆။ လုပ်ငန်း ဆောင်ရွက်ရန်အတွက် ပြည်တွင်း ဝန်ထမ်း(၃၂)ဦး နှင့် ပြည်ပ (၁) ဦး စုစုပေါင်း (၃၃)ဦး ခန့်ထားမည်ဖြစ်ပါသည်။ ပြည်တွင်းဝန်ထမ်းတစ်ဦး၏ အနိမ့်ဆုံးလစာမှာ US$ ၁၃၂ ဖြစ်ပြီး အမြင့်ဆုံးလစာမှာ US$ ၆၂၅၀ဖြစ်ပါသည်။ ပြည်ပဝန်ထမ်းတစ်ဦး၏အမြင့်ဆုံးလစာမှာ US$ ၆၂၅၀ ဖြစ်ပါသည်။

၇။ အဆိုပြုလုပ်ငန်းမှ ထွက်ရှိလာသော ပစ္စည်းများကို ပြည်ပသို့ ၈၀% ရောင်းချမည် ဖြစ်ပြီး ပြည်တွင်းတွင် ၂၀%ရောင်းချမည် ဖြစ်ပါသည်။ ပုံမှန်နှစ်(ဆဋ္ဌမမြောက်နှစ်) ထုတ်လုပ်မှုနှင့်ရောင်းချမှု ဈေးနှုန်းမှာ အောက်ပါအတိုင်း ဖြစ်ပါသည်-

| ပစ္စည်း အမျိုးအစား | ထုတ်လုပ်မှု အရေအတွက် (မက်ထရစ်တန်) | | ရောင်းဈေးနှုန်း | |
|---|---|---|---|---|
| | ပြည်တွင်း | ပြည်ပ | ပြည်တွင်း (Kyat/ MT) | ပြည်ပ (US$/ MT) |
| Parboiled Rice (Grade 1) | - | ၆၂,၂၆၀ | - | ၄၄၉ |
| Parboiled Rice (Grade 2) | - | ၅,၁၄၀ | - | ၂၃၉- |
| Extra Broken | ၆,၃၅၈ | - | ၃၆၇,၄၀၀ | - |
| Broken | ၅,၇၇၀ | - | ၂၇၆,၁၀၀ | - |
| Bran | ၃,၄၆၀ | - | ၂၅၅,၂၀၀ | - |

၈။ ဤလုပ်ငန်းကို ဆောင်ရွက်ခြင်းဖြင့် ပုံမှန်နှစ် (ဆဋ္ဌမမြောက်နှစ်)တွင် ကုမ္ပဏီမှရရှိမည့် အကျိုး အမြတ် ခန့်မှန်းခြေမှာ အောက်ပါအတိုင်း ဖြစ်ပါသည်-

US $ (သန်း)

(က) ဝင်ငွေ - ၃၃.၅၅၈
(ခ) အသုံးစရိတ် - ၂၉.၂၇၆
(ဂ) အသားတင်အမြတ် - ၄.၂၈၂

၉။ ဤလုပ်ငန်းကိုဆောင်ရွက်ခြင်းဖြင့် နိုင်ငံတော်မှ(ဆဋ္ဌမမြောက်နှစ်)တွင် ရရှိမည့် အကျိုးအမြတ် ခန့်မှန်းခြေမှာ ဝင်ငွေခွန် အမေရိကန်ဒေါ်လာ ၁.၄၆ သန်း ဖြစ်ပါသည်။ လုပ်ငန်း၏ အရင်းကြေ ကာလမှာ ၅ နှစ် ၅ လ ဖြစ်ပြီး အရင်းအနှီးအပေါ် အကျိုးအမြတ် ပြန်ပေါ်နှုန်း(IRR) မှာ ၂၂.၇% ဖြစ်ပါသည်။

၁၀။ အဆိုပြုလုပ်ငန်းနှင့် စပ်လျဉ်း၍ ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့၊ ပတ်ဝန်းကျင်ထိန်း သိမ်းရေးဦးစီးဌာန၊ ရင်းနှီးမြှုပ်နှံမှုဌာနဆိုင်ရာ ပူးပေါင်းလုပ်ငန်းအဖွဲ့ ၊ စီးပွားရေးနှင့်ကူးသန်း ရောင်း ဝယ်ရေးဝန်ကြီးဌာန၊ စက်မှုဝန်ကြီးဌာနနှင့် မြန်မာနိုင်ငံတော်ဗဟိုဘဏ်တို့သို့ သဘောထားမှတ်ချက် များ တောင်းခံခဲ့ရာ တဖက်ပါအတိုင်း သဘောထားပြန်ကြားလာပါသည်-

(က) **ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့** မှကန့်ကွက်ရန်မရှိပါကြောင်း သဘောထားပြန်ကြားထားပါသည်။ **(နောက်ဆက်တွဲ - က)**

(ခ) **ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် သစ်တောရေးရာဝန်ကြီးဌာန** မှ အဆိုပြုလုပ်ငန်းများကြောင့် ဖြစ်ပေါ်လာနိုင်သည့် ပတ်ဝန်းကျင်၊ လူမှုရေးနှင့် ကျန်းမာရေးထိခိုက်မှုအနည်းဆုံးဖြစ်စေရန်အတွက် လုပ်ငန်းဆိုင်ရာအချက်အလက်များကို ပြည့်စုံစွာ ဖော်ပြပြီး ပတ်ဝန်းကျင်ထိခိုက်မှုအနည်းဆုံးဖြစ်စေမည့် နည်းစနစ် များကို အသုံးပြုရန်နှင့် အဆိုပြုလွှာတွင်ဖော်ပြထားသည့် လူမှုရေးဆိုင်ရာ တာဝန်ခံ ပူးပေါင်းဆောင်ရွက်မှု (Corporate Social Responsibility- CSR)အတွက် နှစ်စဉ်အမြတ်ငွေ၏ ၃%ကို အသုံးပြုခြင်းအပါအဝင် ကတိကဝတ်များအားလိုက်နာ အကောင်အထည် ဖော်ဆောင်ရွက်ရန်၊ အဆိုပြုလုပ်ငန်းများကြောင့် ပတ်ဝန်းကျင်နှင့်လူမှုရေး ထိခိုက်မှုမရှိစေရေး (သို့မဟုတ်) ထိခိုက်မှုအနည်းဆုံးဖြစ်စေရေးအတွက် ကနဦးပတ်ဝန်းကျင်ဆန်းစစ်ခြင်း (Initial Environmental Examination-IEE)ကို ဆောင်ရွက်ပြီး ပတ်ဝန်းကျင်ထိခိုက်မှု ဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်းပါ အချက်အလက်များပါအတိုင်း အစီရင်ခံစာရေးသားတင်ပြရန်နှင့် ဝန်ကြီးဌာနမှလိုအပ်ပါက ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်း(Environmental Impact Assessment-EIA)ကို ဆက်လက်ဆောင်ရွက်ရန်၊ အဆိုပြုလုပ်ငန်းကြောင့် ပတ်ဝန်းကျင်နှင့်လူမှုရေး ထိခိုက်မှုများ မဖြစ်စေရေး (သို့မဟုတ်) ထိခိုက်မှုအနည်းဆုံး ဖြစ်စေမည့် လုပ်ငန်းဆောင်ရွက်မည့် အစီအစဉ်၊ စွန့်ပစ်ပစ္စည်း/စွန့်ပစ်အရည် စီမံခန့်ခွဲမှုအစီအစဉ်၊ စောင့်ကြပ်ကြည့်ရှုစစ်ဆေးမည့် အစီအစဉ်၊ ပတ်ဝန်းကျင်ထိခိုက်မှုလျော့ပါးရေးဆောင်ရွက်မည့် လုပ်ငန်းများ အတွက် သုံးစွဲမည့်ရန်ပုံငွေ စသည်တို့ပါဝင်သော ပတ်ဝန်းကျင်စီမံခန့်ခွဲမှု အစီအစဉ် (Environmental Management Plan-EMP)အား ရေးဆွဲတင်ပြ၍ စီမံချက်ပါအတိုင်း အကောင်အထည်ဖော်ဆောင်ရွက်ရန်၊ ပြဋ္ဌာန်းထားသည့် ပတ်ဝန်းကျင်ထိန်းသိမ်းရေးဥပဒေ၊ နည်းဥပဒေ၊ လုပ်ထုံးလုပ်နည်းများ၊ အမျိုးသား ပတ်ဝန်းကျင်ဆိုင်ရာ အရည်အသွေး(ထုတ်လွှတ်မှု) လမ်းညွှန်ချက်များနှင့်အညီ လိုက်နာဆောင်ရွက်ရန် သဘောထားပြန်ကြားထားပါသည်။

**(ကုမ္ပဏီမှ ကနဦး ပတ်ဝန်းကျင်ဆန်းစစ်ခြင်း အစီအစဉ် (IEE)နှင့် ပတ်ဝန်းကျင်စီမံခန့်ခွဲမှုအစီအစဉ် (EMP) တို့ကို ဆောင်ရွက် သွားမည် ဖြစ်ကြောင်း တင်ပြထားပါသည်။)** **(နောက်ဆက်တွဲ-ခ)**

(ဂ) **စီးပွားရေးနှင့်ကူးသန်းရောင်းဝယ်ရေးဝန်ကြီးဌာနမှ** တင်သွင်းမည့် စက်ယူနစ်များ အသေး စိတ်တင်ပြထားသော်လည်း အဆိုပါစက်ပစ္စည်းများ၏ Technical Specification များအား ထည့်သွင်းတင်ပြပေးရန်၊ အသစ်တပ်ဆင်တည်ဆောက်မည့် စက်များ အတွက် Processing Chart၊ Machine Layout Plan နှင့် Project Site Detail Layout Plan များကိုပါ အသေးစိတ် ဖော်ပြရန်၊ အသစ်တိုးချဲ့တည်ဆောက်မည့် အဆောက်အဦပုံစံအား ရှင်းလင်းပြတ်သားစွာ တင်ပြပေးရန်နှင့် ကန့်ကွက်ရန်မရှိ ပါကြောင်း သဘောထားပြန်ကြားထားပါသည်။ **(နောက်ဆက်တွဲ - ဂ)**

(ဃ) **စက်မှုဝန်ကြီးဌာန** မှ လျှပ်စစ်သွယ်တန်းအသုံးပြုမှုကို လျှပ်စစ်ဥပဒေနှင့်အညီ အသုံး မပြုမီ စစ်ဆေးဆောင်ရွက်ရန်၊ မီးဘေးအန္တရာယ် ကင်းဝေးစေရေးနှင့် ပတ်ဝန်းကျင် ညစ်ညမ်းမှု မဖြစ်ပေါ်စေရေးတို့အတွက် သက်ဆိုင်ရာဌာနများ၏ စိစစ်ချက်ဖြင့် စနစ် တကျ ဆောင်ရွက်ရန်နှင့် ၎င်းအစီအမံအတွက် အသားတင် အမြတ်ငွေ၏ ၁% သုံးစွဲရန်၊ ပုဂ္ဂလိကစက်မှုလုပ်ငန်းဥပဒေ နှင့်အညီ စက်မှုမှတ်ပုံတင် လျှောက်ထား ဆောင်ရွက် ရန်နှင့် လိုအပ်ချက်များအား ဖြည့်ဆည်းဆောင်ရွက်သွားမည်ဆိုပါက ကန့်ကွက်ရန် မရှိပါကြောင်း သဘောထား ပြန်ကြားထားပါသည်။

**[စက်မှုဝန်ကြီးဌာန၏ သဘောထားမှတ်ချက်နှင့်အညီ ကုမ္ပဏီမှ လိုက်နာဆောင် ရွက်သွားမည်ဖြစ်ပါကြောင်းနှင့် ဆောင်ရွက်ထားရှိမှုကို ဆက်လက်တင်ပြ သွားမည် ဖြစ်ကြောင်း ဝန်ခံကတိ တင်ပြထားပါသည်။]** **(နောက်ဆက်တွဲ-ဃ)**

(င) **မြန်မာနိုင်ငံတော်ဗဟိုဘဏ်မှ** Golden Lace Daewoo Co.,Ltdက ရယူမည့် ချေး ငွေသည် ပြည်ပမှ ရယူမည့် ချေးငွေ(Offshore Loan) မဟုတ်ဘဲ ပြည်တွင်းရှိ နိုင်ငံ ခြားဘဏ်ခွဲမှ ရယူမည့် ပြည်တွင်းချေးငွေ (Onshore Loan) ဖြစ်သောကြောင့် မြန်မာ နိုင်ငံတော်ဗဟိုဘဏ်၏ ခွင့်ပြုချက်ရယူရန် မလိုအပ်ပါကြောင်း သဘောထားပြန်ကြား ထားပါသည်။ **(နောက်ဆက်တွဲ-င)**

၁၁။ ငွေရေးကြေးရေး အထောက်အထားအဖြစ် Posco Daewoo Corporationသည် ကိုရီးယား နိုင်ငံရှိ Woori Bank ၌ ၁၂-၉-၂၀၁၆ရက်နေ့တွင် လက်ကျန်ငွေအမေရိကန်ဒေါ်လာ ၆၀၀သန်း ရှိကြောင်းနှင့် Golden Lace Co.,Ltdအမည်ဖြင့် နိုင်ငံခြားကုန်သွယ်မှုဘဏ်၌ ၁၀-၈-၂၀၁၆ ရက်စွဲဖြင့် အမေရိကန် ဒေါ်လာ ၉၀, ၈၈၅.၄၉ရှိကြောင်း နှင့် ဒါရိုက်တာ အဖွဲ့ဝင်များ၏ Passport မိတ္တူများ နှင့် နိုင်ငံသား မှတ်ပုံတင် မိတ္တူများကို တင်ပြထားပါသည်။

၁၂။ Golden Lace Daewoo Company Limitedမှ တည်နေရာပြမြေပုံ၊ လုပ်ငန်းသဘော သဘာဝ ရှင်းလင်းချက်၊ ရေနှင့်လျှပ်စစ်ဓါတ်အား ရယူသုံးစွဲမည့်အစီအစဉ်၊ မီးဘေးကြိုတင် ကာကွယ်ရေး စီမံချက်၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် သန့်ရှင်းသာယာရေး စီမံချက် အစီအစဉ်၊ လုပ်ငန်းခွင် သာယာရေးအတွက် ဆောင်ရွက်ထားရှိမှု၊ ကျန်းမာရေးနှင့် လုပ်ငန်းခွင်အန္တရာယ် ကင်းရှင်းရေး ဆောင်ရွက်ထားရှိမှု၊ ဝန်ထမ်းများအတွက် ကျန်းမာရေး၊ လူမှုရေး စောင့်ရှောက်ထားရှိမည့် အစီအစဉ်များ ကတိဝန်ခံချက်တို့ကို တင်ပြထားပါသည်။

၁၃။ Golden Lace Daewoo Company Limitedမှ နှစ်စဉ် အသားတင်အမြတ်ငွေ၏ ၃%ကို Corporate Social Responsibilityအဖြစ် အသုံးပြုမည်ဖြစ်ကြောင်း တင်ပြထားပါသည်။

၁၄။ နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု ဥပဒေပါ အခွန်ဆိုင်ရာကင်းလွတ်ခွင့်နှင့် သက်သာခွင့်များကို ခံစားခွင့် ပြုပါရန် တင်ပြထားပါသည်။

၁၅။ အဆိုပြုချက်စိစစ်ရေးအဖွဲ့၏ ၂၀၁၆ ခုနှစ် အောက်တိုဘာလ ၂၄ ရက်နေ့တွင် ကျင်းပသော ၃၉/၂၀၁၆ ကြိမ်မြောက် အစည်းအဝေးသို့ တင်ပြခဲ့ပါသည်။

၁၆။ **စိစစ်တင်ပြချက်**

(က) မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ ၂၀၁၆ခုနှစ် မတ်လ ၂၁ ရက်စွဲဖြင့် ထုတ်ပြန် ထားသော အမိန့်ကြော်ငြာစာအမှတ် ၂၆/၂၀၁၆ အရ နိုင်ငံသားနှင့် ဖက်စပ်စနစ်ဖြင့်သာ ဆောင်ရွက်ခွင့်ပြုနိုင်သည့် လုပ်ငန်းအမျိုးအစား ဖြစ်ပါသည်။

(ခ) မြေစာရင်းပုံစံ (၁၀၅)အား တင်ပြထားပါသည်။

(ဂ) အဆိုပြုလုပ်ငန်းအတွက် ချေးငွေ အမေရိကန်ဒေါ်လာ ၁၁ သန်းပါဝင်မည် ဖြစ်ပြီး လိုအပ်သော ချေးငွေအား ကော်မရှင်ခွင့်ပြုမိန့်ရရှိပြီး လုပ်ငန်းဆောင်ရွက်ချိန်တွင် ရယူမည်ဖြစ်ကြောင်း တင်ပြထားပါသည်။

(ဃ) နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု ဥပဒေအရ ပုဂ္ဂလိကမြေတွင် ငှားရမ်း ဆောင်ရွက်ခွင့်ပြုရန် ကိစ္စကို ကော်မရှင်၏ ၂၂/၂၀၁၆ ကြိမ်မြောက် အစည်းအဝေးနှင့် ပြည်ထောင်စု အစိုးရအဖွဲ့ အစည်းအဝေးသို့ ဆက်လက်တင်ပြထားပါသည်။ ပြည်ထောင်စုအစိုးရ အဖွဲ့မှ သဘောတူ ခွင့်ပြုပြီးမှသာ ကော်မရှင် ခွင့်ပြုမိန့် ထုတ်ပေးမည်ဖြစ်ပါသည်။

**ဆုံးဖြတ်ရန်အချက်**

၁၇။ ဖက်စပ်နိုင်ငံခြား ရင်းနှီးမြှုပ်နှံမှုဖြင့် Golden Lace Daewoo Company Limited တည်ထောင်၍ ပို့ဆောင်ရေးနှင့်ဆက်သွယ်ရေးဝန်ကြီးဌာန၊ ရေအရင်းအမြစ်နှင့် မြစ်ချောင်းများ ဖွံ့ဖြိုးတိုးတက်ရေးဦးစီးဌာနပိုင်မြေအားငှားရမ်း၍ B.O.T စနစ်ဖြင့်ပေါင်းဆန်၊ အဆင့်မြင့်ဆန်ဖြူ နှင့် ဆန်နှင့် သက်ဆိုင်သော ထုတ်ကုန်များ ကြိတ်ခွဲထုတ်လုပ်ရောင်းချခြင်း လုပ်ငန်းဆောင်ရွက်ခွင့် ပြုပါရန် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ အဆိုပြုတင်ပြလာခြင်းအပေါ် ခွင့်ပြုရန် သဘောတူ-မတူ။

ဥက္ကဋ္ဌ(ကိုယ်စား)
(မြသူဇာ၊ တွဲဖက်အတွင်းရေးမှူး)

မိတ္တူကို
ရုံးလက်ခံ/မျှောစာတွဲ

## ကုမ္ပဏီဒါရိုက်တာနှင့် အစုရှင်များ၏ နေရပ်လိပ်စာ စာရင်း

| စဉ် | ကုမ္ပဏီအမည် | ဒါရိုက်တာ/ အစုရှင်များ၏ အမည် | ဒါရိုက်တာ/ အစုရှင်များ၏ ဆက်သွယ်ရန် လိပ်စာ |
|---|---|---|---|
| ၁။ | Golden Lace Daewoo Company Limited | Posco Daewoo Corporation | |
| | | (၁) Mr.Yoo Joon Won<br>Director<br>Korean<br>PP No. M45778805 | I-10002, 150, Jam-Won-Ro, Seo-Cho-Gu, Seoul, Korea |
| | | (၂) Mr. Koo Kyeung Roung<br>Director<br>Korean<br>PP No.M92745490 | 101-404,Taehaeran 4 Road, Gangnam-gu, Seoul, Korea |
| | | (၃) Mr.Lee Young-Kwon<br>Director<br>Korean<br>PP No.M17533306 | 200, Dongtanjungang-ro, Hwaseong-si, Gyeonggi-do, Korea |
| | | (၄) Mr. Kim Jong An<br>Director<br>Korean<br>PP No.M88201252 | (Dong Yang Apt.505), 30, Bongohdae-ro 677-gil, Gyeyang-gu, Incheon, Korea |
| | | Golden Lace Company Limited<br>(၅) U Thaung Win<br>Director<br>Myanmar<br>NRC No.12/Ya Ka Na(N) 020936 | No.26, Khaymar Street, Thiri Khaymar Ward, Sanchaung Township, Yangon Region. |
| | | (၆) U Khin Maung Nyunt<br>Director<br>Myanmar<br>NRC No.12/Ya Ka Na(N) 061072 | No.7, Zeyar Thukha Street, Ward No.Ka, Thingangyun Township, Yangon Region |

| | | | |
|---|---|---|---|
| | | (၇) U Phyo Thaung Win<br>Director<br>Myanmar<br>NRC No.12/Ya Ka Na(N)<br>065829 | No.26, Khaymar Street,<br>Thiri Khaymar Ward,<br>Sanchaung Township,<br>Yangon Region. |

၁။ ဆက်သွယ်ရမည့် တယ်လီဖုန်းနံပါတ်၊ ဖက်စ်နံပါတ် - ၀၉-၅၁၁၃၈၀၂

၂။ ဆက်သွယ်ရမည့် လိပ်စာအပြည့်အစုံ - အမှတ်-၂၆၊ ခေမာလမ်း၊ သီရိခေမာရပ်ကွက်၊ စမ်းချောင်းမြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီး

၃။ ဆက်သွယ်ရမည့် ပုဂ္ဂိုလ်အမည်၊ ရာထူး - ဦးသောင်းဝင်း
ဒါရိုက်တာ

၄။ ကုမ္ပဏီအနေဖြင့်ဆောင်ရွက်သည့်လုပ်ငန်းများ - ပေါင်းဆန်၊ အဆင့်မြင့်ဆန်ဖြူနှင့် ဆန်နှင့်သက်ဆိုင်သော ထုတ်ကုန်များ ကြိတ်ခွဲထုတ်လုပ်ရောင်းချခြင်းလုပ်ငန်း

၅။ ကုမ္ပဏီမှတ်ပုံတင်အမှတ်/ နေ့စွဲ - -

၆။ ကုမ္ပဏီမှတ်ပုံတင်ကုန်ဆုံးသည့်နေ့စွဲ - -

၇။ ဘဏ်အမည်နှင့် ဘဏ်စာရင်းအမှတ် - -



နောက်ဆက်တွဲ(က)

# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
# တိုင်းဒေသကြီးအစိုးရအဖွဲ့
# ရန်ကုန်တိုင်းဒေသကြီး

စာအမှတ်၊ ၃ / ၆ - ၃ (၇) / တိုင်းရင်းသား
ရက်စွဲ၊ ၂၀၁၆ ခုနှစ်၊ ဒီဇင်ဘာ လ ၉ ရက်

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
အမှတ်(၁)၊ သစ္စာလမ်း၊ ရန်ကင်းမြို့နယ်

အကြောင်းအရာ။ **သဘောထားမှတ်ချက်တောင်းခံလာခြင်းကိစ္စ**

ရည် ညွှန်း ချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ (၂၁. ၁၁. ၂၀၁၆)ရက်စွဲပါစာအမှတ်၊ မရက-၂/ န-၁၅၉/၂၀၁၆(၈၄၉)

၁။ ကိုရီးယားနိုင်ငံ Posco Daewoo Corporation မှ (၆၀%)နှင့် မြန်မာနိုင်ငံမှ Golden Lace Company Limited မှ (၄၀%)အစုရှယ်ယာများထည့်ဝင်ကာ နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဥပဒေအရ ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် မြန်မာနိုင်ငံတွင် Golden Lace Daewoo Company Limited တည်ထောင်ပြီး ရန်ကုန်တိုင်းဒေသကြီး၊ တွံတေးမြို့နယ်၊ ကုလားတန်းကျေးရွာအုပ်စု၊ မြေကွင်းအမှတ် ၁၂၄(က)၊ လှေကွင်းလမ်း၊ ဦးပိုင်အမှတ်(CN/၁၀)အတွင်းရှိ မြေ (၁၃. ၈)ဧကကို ငှားရမ်း၍ ပေါင်းဆန်၊ အဆင့်မြင့်ဆန်ဖြူနှင့် ဆန်နှင့်သက်ဆိုင်သော ထုတ်ကုန်များကြိတ်ခွဲထုတ်လုပ်ရောင်းချခြင်းလုပ်ငန်းအား နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဥပဒေအရ ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာမှုအပေါ် သဘောထားမှတ်ချက် ပြန်ကြားပေးနိုင်ပါရန် ရည်ညွှန်းပါစာဖြင့် ညှိနှိုင်းမေတ္တာရပ်ခံလာပါသည်။

၂။ အဆိုပါကိစ္စနှင့်စပ်လျဉ်း၍ (၅. ၁၂. ၂၀၁၆)ရက်နေ့ တွင် ကျင်းပပြုလုပ်သော ရန်ကုန်တိုင်းဒေသကြီး အစိုးရအဖွဲ့ အစည်းအဝေးအမှတ်စဉ် (၃၃/၂၀၁၆)၊ ဆုံးဖြတ်ချက်အပိုဒ် (၁၀၉)အရ ကန့်ကွက်ရန်မရှိပါကြောင်း တင်ပြအပ်ပါသည်။

ဝန်ကြီးချုပ် (ကိုယ်စား)
( နော်ပန်းသဥ္ဇာမြိုး၊ ကရင်တိုင်းရင်းသားလူမျိုးရေးရာဝန်ကြီး )

**မိတ္တူကို**

ရန်ကုန်တိုင်းဒေသကြီးကရင်တိုင်းရင်းသားလူမျိုးရေးရာဝန်ကြီး
ရန်ကုန်တောင်ပိုင်းခရိုင်အထွေထွေအုပ်ချုပ်ရေးဦးစီးဌာန
တွံတေးမြို့နယ်အထွေထွေအုပ်ချုပ်ရေးဦးစီးဌာန
Golden Lace Daewoo Company Limited
လက်ခံစာတွဲ/မျှောစာတွဲ

D/2016/Cabinet/33.(11)

နောက်ဆက်တွဲ(ခ)



MIC1 358 / 28/11

ရင်းနှီးမြှုပ်နှံမှုဌာနဆိုင်ရာပူးပေါင်းလုပ်ငန်းအဖွဲ့
ရန်ကုန်မြို့
စာအမှတ်၊ဝဝ၁/MIC(OSS)/ ဝ၁( ၂၅၂ / ၁၆ )
ရက် စွဲ ၊၂၀၁၆ခုနှစ် နိုဝင်ဘာ လ ၂၈ ရက်

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ **Golden Lace Daewoo Company Limited မှ ပေါင်းဆန်နှင့်အဆင့်မြင့်ဆန်ဖြူထုတ်လုပ်ခြင်းလုပ်ငန်းအား ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာခြင်းကိစ္စနှင့်ပတ်သက်၍ သဘောထားမှတ်ချက်ပြန်ကြားခြင်း**

ရည် ညွှန်း ချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၁၇-၁၁-၂၀၁၆ ရက်စွဲပါစာအမှတ်၊ ရက-၂/ န-၁၅၉/ ၂၀၁၆(၈၄၃)

၁။ ကိုးရီးယားနိုင်ငံ Posco Daewoo Corporation မှ(၆၀%)နှင့် မြန်မာနိုင်ငံမှ Golden Lace Company Limited မှ (၄၀%) အစုရှယ်ယာများထည့်ဝင်၍ ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် မြန်မာနိုင်ငံတွင် Golden Lace Daewoo Company Limited တည်ထောင်ကာ ရန်ကုန်တိုင်းဒေသကြီး၊ တွံ့တေးမြို့နယ်၊ ကုလားတန်ကျေးရွာအုပ်စု၊ မြေကွင်းအမှတ်- ၁၂၄(က)၊ လှေကွင်းလမ်း၊ ဦးပိုင်အမှတ်(CN/၁၀)အတွင်းရှိမြေ(၁၃.၈)ဧက၊ ငှားရမ်းပြီး တစ်ရက်လျှင် ဆန်တန်(၂၀၀)ကြိတ်ခွဲနိုင်သည့် စက်(၂)လုံးဖြင့် နိုင်ငံတကာအဆင့်မီဆန်စက်တည်ထောင်၍ ပေါင်းဆန်နှင့်အဆင့်မြင့်ဆန်ဖြူထုတ်လုပ်သည့် လုပ်ငန်းအား နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဥပဒေအရ ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာခြင်းကိစ္စနှင့်ပတ်သက်၍ စီစစ်ပြီးသဘောထားမှတ်ချက်ပြန်ကြားပေးပါရန် ရည်ညွှန်းပါစာဖြင့်အကြောင်းကြားလာပါသည်။

၂။ ပူးတွဲပေးပို့လာသောအဆိုပြုလွှာတွင် ရင်းနှီးမြှုပ်နှံမှုကာလမှာ ကနဦးနှစ်(၅၀)နှင့်သက်တမ်းတိုး(၁၀)နှစ် (၂)ကြိမ် ဖြစ်ကြောင်း၊ တည်ဆောက်ရေးကာလမှာ (၂)နှစ် ဖြစ်ကြောင်း၊ ထုတ်လုပ်မှုပမာဏအနေဖြင့် ပထမနှစ်မှစ၍ တဖြည်းဖြည်းတိုးမြင့်ထုတ်လုပ်သွားမှာဖြစ်ပြီး၊ (၆)နှစ်မှစ၍နှစ်(၅၀)အထိ နှစ်စဉ် ဆန်(Grade-1) (၆၃၀၁၁)မက်ထရစ်တန်၊ ဆန်(Grade-2) (၅၂၀၂)မက်ထရစ်တန်၊ ဆန်ကျိုး(၆၄၃၅)မက်ထရစ်တန်၊ ဆန်ကွဲ(၅၈၄၀)မက်ထရစ်တန်၊ ဖွဲနု(၃၅၀၂)မက်ထရစ်တန်၊ စုစုပေါင်း(၈၃၉၈၉)မက်ထရစ်တန်၊ ဆန်(၂)မျိုးအား နိုင်ငံခြားပို့နိုင်

သည့်အဆင့်အထိ အဆင့်မီထုတ်လုပ်သွားမည်ဖြစ်ကြောင်း မီးဘေးကြိုတင်ကာကွယ်ရေး စီမံချက်၊ လုပ်ငန်းခွင်သာယာရေးနှင့်ဝန်ထမ်းသက်သာချောင်ချိရေး စီမံချက်များကိုလည်း ထားရှိဆောင်ရွက်သွားမည်ဖြစ်ကြောင်း၊ လုပ်ငန်းမှရရှိလာမည့်နှစ်စဉ် အမြတ်ငွေ၏ (၃%)ကို လူမှုရေးဆိုင်ရာတာဝန်ခံပူးပေါင်းဆောင်ရွက်မှု ( Corporate Social Responsibility – CSR)လုပ်ငန်းများတွင် ထည့်သွင်းအသုံးပြုသွားမည်ဖြစ်ကြောင်း ဖော်ပြပါရှိပါသည်။ သဘာဝ ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့်ပတ်သက်၍ လုပ်ငန်းမှထွက်ရှိလာသော စွန့်ပစ်အရည်များ၊ အခိုးအငွေ့များ၊ အနံ့အသက်များ၊ အမှုန်များအားသတ်မှတ်စံချိန် စံညွှန်းနှင့်အညီ စနစ်တကျ စွန့်ပစ်သွားမည်ဖြစ်ကြောင်းနှင့် ပတ်ဝန်းကျင်ထိခိုက်မှု၊ လူမှုရေး၊ ကျန်းမာရေး ထိခိုက်မှုမရှိ စေရန် စနစ်တကျ စီစဉ်ဆောင်ရွက်ထားရှိမည်ဖြစ်ကြောင်း ဖော်ပြပါရှိပါသည်။

၃။ Golden Lace Daewoo Company Limited မှ ပေါင်းဆန်နှင့်အဆင့်မြင့်ဆန်ဖြူ ထုတ်လုပ်သည့်လုပ်ငန်းအတွက် တည်ဆောက်ရေးလုပ်ငန်းဆောင်ရွက်စဉ် အနီးပတ်ဝန်းကျင် ရှိ လူများနှင့်သဘာဝပတ်ဝန်းကျင်အပေါ် ထိခိုက်မှုပြဿနာများဖြစ်ခြင်း၊ စက်ယန္တရားများ၊ သယ်ယူပို့ဆောင်ရေးဆောင်ရွက်သည့်ယာဉ်နှင့် သဘော်များ၏ စက်မောင်းဆီများ ပေါ်လျှော့မှု ကြောင့်ဖိတ်စင်ခြင်း၊ အခြားအကြောင်းအမျိုးမျိုးကြောင့် စွန့်ပစ်ပစ္စည်းအစိုင်အခဲများ၊ စွန့်ပစ် အရည်များ၊ မြစ်ချောင်းများအတွင်းသို့ရောက်ရှိ၍ ညစ်ညမ်းမှုဖြစ်ပေါ်ခြင်း၊ ဆူညံခြင်း၊ အမှုန် အမွှားများထွက်ရှိခြင်းတို့ကြောင့်လူမှုပတ်ဝန်းကျင်ကိုထိခိုက်မှုဖြစ်ခြင်း၊ စက်ရုံစတင်လည်ပတ် သည့်အခါ၌လည်းထွက်ရှိလာမည့် စပါးခွံများ၊ စက်ရုံမှထွက်ရှိလာမည့် စွန့်ပစ်ပစ္စည်း အစိုင် အခဲများ၊ စွန့်ပစ်အရည်များ၊ စက်ယန္တရားများမှ ယိုဖိတ်၍ စက်မောင်းဆီ ဖိတ်စင်မှုများ၊ စွန့်ပစ် အင်ဂျင်ဝိုင်အမဲဆီများ၊ စသည်တို့အား စနစ်တကျစီမံခန့်ခွဲမှုမပြုပါက ပတ်ဝန်းကျင် ရေထု၊ လေထုနှင့်မြေဆီလွှာ ထိခိုက်မှုများ ဖြစ်ပေါ်နိုင်ခြင်း၊ စက်ရုံလုပ်ငန်းခွင်မှထွက်ရှိလာမည့် ဆူညံ အသံများ၊ အမှုန်အမွှားများ၊ ဖုန်မှုန့်များ၊ မီးခိုးများကြောင့် လုပ်ငန်းခွင်အတွင်းရှိ လုပ်သားများ နှင့် ပတ်ဝန်းကျင်ပြည်သူလူထုအား အနှောက်အယှက်ဖြစ်စေခြင်း၊ စသည့်အမျိုးမျိုးသော ပတ်ဝန်းကျင်ဆိုင်ရာထိခိုက်မှုပြဿနာများဖြစ်ပေါ်လာနိုင်ပါသည်။

၄။ သို့ဖြစ်ပါ၍ Golden Lace Daewoo Company Limited မှ အဆင့်မြင့်ပေါင်း ဆန်ထုတ်လုပ်ခြင်းလုပ်ငန်းများ ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာခြင်းကိစ္စနှင့်ပတ်သက်၍ အောက်ပါအတိုင်းသဘောထားမှတ်ချက်ပြန်ကြားအပ်ပါသည်-

(က) အဆိုပြုလုပ်ငန်းများကြောင့်ဖြစ်ပေါ်လာနိုင်သည့် ပတ်ဝန်းကျင်၊ လူမှုရေးနှင့် ကျန်းမာရေးထိခိုက်မှု အနည်းဆုံးဖြစ်စေရန်အတွက် လုပ်ငန်းဆိုင်ရာအချက်အလက်များကို ပြည့်စုံစွာဖော်ပြပြီး ပတ်ဝန်းကျင်ထိခိုက်မှုအနည်းဆုံးဖြစ်စေမည့် နည်းစနစ်များကို အသုံးပြုရန်နှင့်အဆိုပြုလွှာတွင်ဖော်ပြထားသည့် လူမှုရေးဆိုင်ရာတာဝန်ခံပူးပေါင်းဆောင်ရွက်မှု (Corporate Social Responsibility – CSR)အတွက်နှစ်စဉ်အမြတ်ငွေ၏ (၃%)ကိုအသုံးပြုခြင်းအပါအဝင် ကတိကဝတ်များအား လိုက်နာအကောင်အထည်ဖော်ဆောင်ရွက်ရန်။

(ခ) အဆိုပြုလုပ်ငန်းများကြောင့် ပတ်ဝန်းကျင်နှင့်လူမှုရေးထိခိုက်မှုမရှိစေရေး( သို့မဟုတ်) ထိခိုက်မှုအနည်းဆုံးဖြစ်စေရေးအတွက် **ကနဦးပတ်ဝန်းကျင်ဆန်းစစ်ခြင်း** ( **Initial Environmental Examination - IEE** )ကို ဆောင်ရွက်ပြီး ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်းပါ အချက်အလက်များပါအတိုင်း အစီရင်ခံစာရေးသားတင်ပြရန်နှင့် ဝန်ကြီးဌာနမှ လိုအပ်ပါက **ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်း(Environmental Impact Assessment-EIA)** ကို ဆက်လက်ဆောင်ရွက်ရန်။

(ဂ) ပတ်ဝန်းကျင်နှင့်လူမှုရေးထိခိုက်မှုများမဖြစ်စေရေး (သို့မဟုတ်) ထိခိုက်မှုအနည်းဆုံးဖြစ်စေမည့် လုပ်ငန်းဆောင်ရွက်မည့်အစီအစဉ်၊ စွန့်ပစ်ပစ္စည်း/ စွန့်ပစ်အရည်စီမံခန့်ခွဲမှုအစီအစဉ်၊ စောင့်ကြပ်ကြည့်ရှုစစ်ဆေးမည့်အစီအစဉ်၊ ပတ်ဝန်းကျင်ထိခိုက်မှုလျော့ပါးရေးဆောင်ရွက်မည့် လုပ်ငန်းများအတွက် သုံးစွဲမည့်ရန်ပုံငွေစသည်တို့ပါဝင်သော **ပတ်ဝန်းကျင်စီမံခန့်ခွဲမှုအစီအစဉ်** ( **Environmental Management Plan - EMP** )အားရေးဆွဲတင်ပြ၍ စီမံချက်ပါအတိုင်းအကောင်အထည်ဖော်ဆောင်ရွက်ရန်။

(ဃ) ပြဋ္ဌာန်းထားသည့် ပတ်ဝန်းကျင်ထိန်းသိမ်းရေးဥပဒေ၊ နည်းဥပဒေ၊ လုပ်ထုံးလုပ်နည်းများ၊ အမျိုးသားပတ်ဝန်းကျင်ဆိုင်ရာအရည်အသွေး (ထုတ်လွှတ်မှု) လမ်းညွှန်ချက်များနှင့်အညီ လိုက်နာဆောင်ရွက်ရန်။

(င) သက်ဆိုင်ရာ တိုင်းဒေသကြီးအစိုးရအဖွဲ့နှင့် ဒေသခံပြည်သူများ၏ ဆန္ဒနှင့်သဘော ထားများရယူဆောင်ရွက်ရန်။

ခင်သီတာတင်
၂၈/၁၁/၂၀၁၉

(ခင်သီတာတင်)

ညွှန်ကြားရေးမှူး

ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန

ရန်ကုန်တိုင်းဒေသကြီး

မိတ္တူကို

ပြည်ထောင်စုဝန်ကြီးရုံး
သယံဇာတနှင့်သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးဝန်ကြီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ သစ်တောဦးစီးဌာန
ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့သစ်လုပ်ငန်း
ညွှန်ကြားရေးမှူးချုပ်၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန
ညွှန်ကြားရေးမှူး၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန၊ ရန်ကုန်တိုင်းဒေသကြီး
ရုံးလက်ခံ

MIC, 368
12/12

နောက်ဆက်တွဲ(ဂ)



ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ
စီးပွားရေးနှင့်ကူးသန်းရောင်းဝယ်ရေးဝန်ကြီးဌာန
ဝန်ကြီးရုံး

စာအမှတ်၊ စက - ၁၄/၁(၂)-၂၉/၂၀၁၆( ၂၄ )
ရက်စွဲ ၊ ၂၀၁၆ ခုနှစ် ၊ ဒီဇင်ဘာလ ၉ ရက်

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ သဘောထားမှတ်ချက်ပြန်ကြားပေးပို့ခြင်းကိစ္စ

ရည်ညွှန်းချက် ။ (၁) မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၂၁-၁၁-၂၀၁၆ ရက်စွဲပါ စာအမှတ်၊ မရက-၂/န-၁၆၀/၂၀၁၆(၈၅၃)

(၂) မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၂၁-၁၁-၂၀၁၆ ရက်စွဲပါ စာအမှတ်၊ မရက-၂/န-၁၅၉/၂၀၁၆(၈၅၀)

၁။ ကိုရီးယားနိုင်ငံ Posco Daewoo Corporation မှ (၆၀%) နှင့် မြန်မာနိုင်ငံ၊ Golden Lace Company Limited မှ (၄၀%) အစုရှယ်ယာများ ထည့်ဝင်ကာ နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဥပဒေအရ ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် မြန်မာနိုင်ငံတွင် Golden Lace Daewoo Company Limited တည်ထောင်ပြီး ရန်ကုန်တိုင်းဒေသကြီး၊ လှိုင်သာယာမြို့နယ်၊ ရွှေလင်ပန်းစက်မှုဇုန်၊ မြေတိုင်းရပ်ကွက် အမှတ် (၂၅)၊ မြေကွက်အမှတ် (၃၂၂-၃၂၃)အတွင်းရှိ မြေ (၃.၃၈၈) ဧက နှင့် ရန်ကုန်တိုင်းဒေသကြီး၊ တွံတေးမြို့နယ်၊ ကုလားတန်းကျေးရွာအုပ်စု၊ မြေကွင်းအမှတ် ၁၂၄(က)၊ လှော်ကွင်းလမ်း၊ ဦးပိုင်အမှတ် (CN/၁၀) အတွင်းရှိ မြေ(၁၃.၈)ဧက တို့ကို ငှားရမ်း၍ ပေါင်းဆန်၊ အဆင့်မြင့်ဆန်ဖြူနှင့် ဆန်နှင့်သက်ဆိုင်သော ထုတ်ကုန်များ ကြိတ်ခွဲထုတ်လုပ်ရောင်းချခြင်းလုပ်ငန်းများကို နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဥပဒေအရ ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုတင်ပြလာခြင်းအပေါ် သဘောထားမှတ်ချက် ပြန်ကြားပေးနိုင်ပါရန် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ ရည်ညွှန်းပါစာများဖြင့် အကြောင်းကြားလာပါသည်။

၂။ ထိုသို့ Golden Lace Daewoo Company Limitedမှ ပေါင်းဆန်၊ အဆင့်မြင့်ဆန်ဖြူနှင့် ဆန်နှင့်သက်ဆိုင်သော ထုတ်ကုန်များ ကြိတ်ခွဲထုတ်လုပ်ရောင်းချခြင်းလုပ်ငန်းကို နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဥပဒေအရ ဆောင်ရွက်ခွင့် ပြုပါရန် အဆိုပြုတင်ပြလာမှုနှင့်ပတ်သက်၍ စီးပွားရေးနှင့် ကူးသန်းရောင်းဝယ်ရေးဝန်ကြီးဌာနအနေဖြင့် အောက်ပါအတိုင်း စိစစ်သုံးသပ်တွေ့ရှိရပါသည်-

(က) Golden Lace Daewoo Company Limitedသည် ယခင်က မြန်မာနိုင်ငံသားကုမ္ပဏီတစ်ခုအနေဖြင့် နိုင်ငံတကာအဆင့်မီ ဆန်စက်တည်ထောင်ပြီး အဆင့်တန်းမြင့် ပေါင်းဆန်ထုတ်လုပ်ခြင်းလုပ်ငန်းအား လုပ်ကိုင်ခွင့်ပြုထားပြီး

ဖြစ်ကြောင်းနှင့် ယခုအခါ လုပ်ငန်းတိုးချဲ့ဆောင်ရွက်ရန် နိုင်ငံခြားရင်းနှီးမြှုပ်နှံသူ ကိုရီးယားနိုင်ငံမှ Posco Daewoo Corporation နှင့် မြန်မာနိုင်ငံသား ဖက်စပ် ပြုလုပ်၍ အဆိုပြုတင်ပြလာသော လုပ်ငန်းဖြစ်ကြောင်း။

(ခ) အဆိုပါကုမ္ပဏီအနေဖြင့် စပါးစိုက်လယ်သမားများအတွက် လယ်ထွန်စက်များ၊ ရိတ်သိမ်းခြွေလှေ့စက်များ အငှားလိုက်ပေးခြင်း၊ အရည်အသွေးကောင်းမျိုးစပါးများ တိုက်ရိုက်ရောင်းချပေးခြင်းတို့ ဆောင်ရွက်မည်ဖြစ်ပြီး ဧရာဝတီတိုင်းဒေသကြီးမှ ထွက်ရှိသော ကုန်ကြမ်းစပါး၊ ပေါင်းဆန်လုံးတီး၊ ဆန်ဖြူလုံးတီးတို့ကို ဝယ်ယူသိုလှောင်ခြင်း၊ အရည်အသွေးမြင့်ပေါင်းဆန်နှင့် ဆန်ဖြူထုတ်လုပ်ခြင်း၊ ကုန်ချောများအနေဖြင့် တန်းမြင့်ပေါင်းဆန်နှင့် တန်းမြင့်ဆန်ဖြူများကို ပြည်ပသို့ တင်ပို့ရောင်းချပြီး ဆားထွက်ပစ္စည်းများကို ပြည်တွင်းပြည်ပ အစာစပ်လုပ်ငန်းများ၊ ငါးကန်နှင့်တိရစ္ဆာန်အစာစပ် စက်ရုံများအတွက် ရောင်းချမည်ဖြစ်၍ ပြည်ပရောင်းချမှု (၈၀%) နှင့် ပြည်တွင်းရောင်းချမှု (၂၀%)ဖြစ်ကြောင်း။

၃။ Golden Lace Daewoo Company Limited မှ အဆင့်မြင့် ပေါင်းဆန်များ၊ တန်းမြင့်ဆန်ဖြူနှင့် ဆန်နှင့်သက်ဆိုင်သော ထုတ်ကုန်များ ကြိတ်ခွဲထုတ်လုပ်ရောင်းချမည့် လုပ်ငန်းများ ဆောင်ရွက်ခွင့်ပြုရန် အဆိုပြုတင်ပြချက်များတွင် အောက်ပါအချက်များအား ဖြည့်စွက်ထည့်သွင်းတင်ပြသင့်ကြောင်း သုံးသပ်အကြံပြုလိုပါသည်-

(က) တင်သွင်းမည့် စက်ယူနစ်များ အသေးစိတ်တင်ပြထားသော်လည်း အဆိုပါ စက်ပစ္စည်းများ၏ Technical Specification များအား ထည့်သွင်းတင်ပြပေးရန် လိုအပ်ပါကြောင်း။

(ခ) အသစ်တပ်ဆင်တည်ဆောက်မည့် စက်များအတွက် Processing Chart၊ Machine Layout Plan နှင့် Project Site Detail Layout Plan များကိုပါ အသေးစိတ် ဖော်ပြရန် လိုအပ်ပါကြောင်း။

(ဂ) အသစ်တိုးချဲ့တည်ဆောက်မည့် အဆောက်အဦပုံစံအား ရှင်းလင်းပြတ်သားစွာ တင်ပြပေးရန် လိုအပ်ပါကြောင်း။

၄။ သို့ဖြစ်ပါ၍ ကိုရီးယားနိုင်ငံ Posco Daewoo Corporation နှင့် မြန်မာနိုင်ငံ၊ Golden Lace Company Limited တို့ အစုရှယ်ယာများ ထည့်ဝင်၍ ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် မြန်မာနိုင်ငံတွင် Golden Lace Daewoo Company Limited တည်ထောင်ပြီး ပေါင်းဆန်၊ အဆင့်မြင့်ဆန်ဖြူနှင့် ဆန်နှင့်သက်ဆိုင်သော ထုတ်ကုန်များ ကြိတ်ခွဲထုတ်လုပ်ရောင်းချခြင်းလုပ်ငန်းများကို ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုတင်ပြလာခြင်းကိစ္စနှင့်ပတ်သက်၍ စပါးစိုက်ပျိုးသည့် တောင်သူလယ်သမားများ၏ လူနေမှုဘဝကို မြှင့်တင်ပေးနိုင်ခြင်း၊ စိုက်ပျိုးရေး

နည်းပညာများ ထွန်းကားလာပြီး လက်မှုလယ်ယာမှ စက်မှုလယ်ယာသို့ လျင်မြန်စွာ တိုးတက်ပြောင်းလဲနိုင်ခြင်း၊ အဆင့်မြင့်လယ်ယာထွက်ကုန်များ ထုတ်လုပ်ပြီး ပြည်ပသို့ တင်ပို့ခြင်းဖြင့် ကုန်သွယ်မှုပမာဏ မြင့်မားစေပြီး နိုင်ငံခြားဝင်ငွေရရှိခြင်း စသည့်အကျိုးကျေးဇူးများ ရရှိလာနိုင်မည်ဖြစ်ခြင်းတို့ကြောင့် စီးပွားရေးနှင့် ကူးသန်းရောင်းဝယ်ရေးဝန်ကြီးဌာနအနေဖြင့် ကုန်သွယ်မှုရှုထောင့်မှ ကန့်ကွက်ရန်မရှိပါကြောင်း ပြန်ကြားအပ်ပါသည်။

ပြည်ထောင်စုဝန်ကြီး( [signature] )
( စိုးဝင်း၊ ဒုတိယအမြဲတမ်းအတွင်းဝန် )

မိတ္တူကို

ညွှန်ကြားရေးမှူးချုပ်၊ ကုန်သွယ်ရေးဦးစီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ စားသုံးသူရေးရာဦးစီးဌာန

နောက်ဆက်တွဲ(ဃ)

MJC, 364
8/12



# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ
## စက်မှုဝန်ကြီးဌာန

စာအမှတ်၊ ၁၃-စမ(၂)၂၀၁၆-၂၀၁၇(၂၂၆၂)
ရက် စွဲ၊ ၂၀၁၆ ခုနှစ်၊ ဒီဇင်ဘာလ ၂ ရက်

သို့

**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်ရုံး**

အကြောင်းအရာ။ **သဘောထားမှတ်ချက် ပြန်ကြားခြင်း**

ရည် ညွှန်း ချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၂၁.၁၁.၂၀၁၆ ရက်စွဲပါ စာအမှတ်၊ မရက-၂ / န-၁၅၉ / ၂၀၁၆ (၈၅၁)

၁။ Golden Lace Daewoo Company Limited မှ ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် ရန်ကုန်တိုင်းဒေသကြီး၊ တွံ့တေးမြို့နယ်၊ ကုလားတန်းကျေးရွာအုပ်စု၊ မြေကွက်အမှတ်(၁၂၄-က)၊ လှေကွင်းလမ်း၊ ဦးပိုင်အမှတ်(CN/၁၀)တွင် ပေါင်းဆန်၊ အဆင့်မြင့်ဆန်ဖြူနှင့် ဆန်နှင့်သက်ဆိုင်သော ထုတ်ကုန်များကြိတ်ခွဲထုတ်လုပ်ရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာခြင်းအပေါ် သဘောထားမှတ်ချက် ပြန်ကြားပေးပါရန် ရည်ညွှန်းချက်ပါစာဖြင့် အကြောင်းကြားလာပါသည်။

၂။ အဆိုပါကုမ္ပဏီမှ ဆောင်ရွက်မည့်လုပ်ငန်းများနှင့်ပတ်သက်၍ အောက်ပါအတိုင်း စိစစ်တွေ့ရှိရပါသည်-

(က) ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံပြီး ပေါင်းဆန်၊ အဆင့်မြင့်ဆန်ဖြူနှင့် ဆန်နှင့်သက်ဆိုင်သော ထုတ်ကုန်များကြိတ်ခွဲထုတ်လုပ်ရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်မည်ဖြစ်ပါသည်။

(ခ) လျှပ်စစ်သွယ်တန်းအသုံးပြုမှုကို လျှပ်စစ်ဥပဒေနှင့်အညီ အသုံးမပြုမီ စစ်ဆေးဆောင်ရွက်ရန် လိုအပ်ပါသည်။

(ဂ) မီးဘေးအန္တရာယ်ကင်းဝေးစေရေးနှင့် ပတ်ဝန်းကျင်ညစ်ညမ်းမှုမဖြစ်ပေါ်စေရေးတို့အတွက် သက်ဆိုင်ရာဌာနများ၏ စိစစ်ချက်ဖြင့် စနစ်တကျ ဆောင်ရွက်ရန်နှင့် ၄င်းအစီအမံအတွက် အသားတင်အမြတ်ငွေ၏ ၁ % သုံးစွဲရန် လိုအပ်ပါသည်။

(ဃ) ပုဂ္ဂလိကစက်မှုလုပ်ငန်းဥပဒေနှင့်အညီ စက်မှုမှတ်ပုံတင် လျှောက်ထားဆောင်ရွက်ရန် လိုအပ်ပါသည်။

၃။ သို့ပါ၍ Golden Lace Daewoo Company Limited မှ ပေါင်းဆန်၊ အဆင့်မြင့်ဆန်ဖြူနှင့် ဆန်နှင့်သက်ဆိုင်သော ထုတ်ကုန်များကြိတ်ခွဲထုတ်လုပ်ရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာခြင်းအပေါ် အထက်ပါ လိုအပ်ချက်များအား ဖြည့်ဆည်းဆောင်ရွက်သွားမည်ဆိုပါက ဤဝန်ကြီးဌာနအနေဖြင့် **ကန့်ကွက်ရန်မရှိပါကြောင်း** ပြန်ကြားအပ်ပါသည်။

ပြည်ထောင်စုဝန်ကြီး (ကိုယ်စား)
(ကိုကိုလွင်၊ အမြဲတမ်းအတွင်းဝန်)

မိတ္တူကို

စက်မှုကြီးကြပ်ရေးနှင့်စစ်ဆေးရေးဦးစီးဌာန

ရုံးလက်ခံ



နောက်ဆက်တွဲ( င)

# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
# မြန်မာနိုင်ငံတော်ဗဟိုဘဏ်

စာအမှတ်၊ အက်ဖ်အီး - ၃၉ / ၆၀
ရက်စွဲ၊ ၂၀၁၆ ခုနှစ်၊ ဒီဇင်ဘာလ ၂၀ ရက်

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ **Golden Lace Daewoo Co., Ltd ၏ ချေးငွေရယူရန် ကိစ္စရပ်အပေါ် သဘောထားမှတ်ချက် တောင်းခံခြင်း**

ရည်ညွှန်းချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ (၂၅.၁၀.၂၀၁၆) ရက်စွဲပါစာအမှတ်၊ မရက-၂/ န-၁၅၉/ ၂၀၁၆ (၈၆၄)

ကိုရီးယားနိုင်ငံ Posco Daewoo Corporation က ၆၀% နှင့် မြန်မာနိုင်ငံ Golden Lace Co., Ltd က ၄၀% အစုရှယ်ယာများထည့်ဝင်ကာ ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် မြန်မာနိုင်ငံတွင် Golden Lace Daewoo Co., Ltd အဖြစ် တည်ထောင်ပြီး လုပ်ငန်းဆောင်ရွက်ရန်အတွက် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ လုပ်ငန်းအဆိုပြုချက်တင်ပြရာတွင် မြန်မာနိုင်ငံတွင် ဖွင့်လှစ်ထားသည့် နိုင်ငံခြားဘဏ်ခွဲ Sumitomo Mitsui Banking Corporation Yangon Branch ထံမှ ချေးငွေ အမေရိကန်ဒေါ်လာ (၁၁) သန်းအား ချေးယူရန်နှင့်စပ်လျဉ်း၍ မြန်မာနိုင်ငံတော်ဗဟိုဘဏ်၏ သဘောထားမှတ်ချက် တောင်းခံလာခြင်းအား အောက်ပါအတိုင်း ပြန်ကြားအပ်ပါသည် -

" Golden Lace Daewoo Co., Ltd က ရယူမည့်ချေးငွေသည် ပြည်ပမှ ရယူမည့်ချေးငွေ (Offshore Loan) မဟုတ်ဘဲ ပြည်တွင်းရှိ နိုင်ငံခြားဘဏ်ခွဲမှရယူမည့် ပြည်တွင်းချေးငွေ (Onshore Loan) ဖြစ်သောကြောင့် မြန်မာနိုင်ငံတော်ဗဟိုဘဏ်၏ ခွင့်ပြုချက်ရယူရန် မလိုအပ်ပါကြောင်း "

ဒုတိယဥက္ကဋ္ဌ ( ကိုယ်စား )
( ဝင်းသော် ၊ ညွှန်ကြားရေးမှူးချုပ် )

4/2

မိတ္တူကို

ဒုတိယဉက္ကဋ္ဌ(၁)၊ မြန်မာနိုင်ငံတော်ဗဟိုဘဏ်

ညွှန်ကြားရေးမှူးချုပ်၊ ဘဏ်လုပ်ငန်းကြီးကြပ်စစ်ဆေးရေးဌာန

Sumitomo Mitsui Banking Corporation (Yangon Branch)

Golden Lace Daewoo Co., Ltd

ရုံးလက်ခံ

မျှောစာတွဲ